ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက- ၃/န-၉၇၁ /၂၀၁၄( ၃၄၂ )
ရက်စွဲ၊ ၂၀၁၄ခုနှစ် ဩဂုတ်လ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co., Ltd. မှ ဆေးရွက်ကြီးစိုက်ပျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Agriculture Century Co., Ltd. မှ ၂၅% ၊ စင်ကာပူနိုင်ငံမှ Alliance One International Singapore Pte. Ltd. မှ ၆၀% နှင့် Representations International Pte., Ltd. မှ ၂၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co., Ltd. တည်ထောင်၍ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ် ၌ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ၂၀၁၄ ခုနှစ် ဇွန်လ ၂၀ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ ရာ အစည်းအဝေးမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းသည် ဆေးဝါးနှင့် ဆေးရွက်ကြီး ဥပဒေနှင့် ညီစွန်းခြင်း ရှိ-မရှိ ကျန်းမာရေးဝန်ကြီးဌာနသို့ သဘောထား တောင်းခံရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ကျန်းမာရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ ကျန်းမာရေးဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) ဆေးလိပ်နှင့် ဆေးရွက်ကြီး ထွက်ပစ္စည်း သောက်သုံးမှု ထိန်းချုပ်ရေးဥပဒေ အခန်း(၂)၊ ပုဒ်မ ၃၊ ပုဒ်မခွဲ (င)ပါ ဥပဒေ၏ ရည်ရွယ်ချက်တွင် "ဆေးလိပ် နှင့် ဆေးရွက်ကြီး ထွက်ပစ္စည်းသောက်သုံးမှု ထိန်းချုပ်ရေးအတွက် မြန်မာနိုင်ငံ ကလက်ခံထားသည့် အပြည်ပြည်ဆိုင်ရာ ကွန်ဗင်းရှင်းနှင့် အညီ အကောင် အထည်ဖော် ဆောင်ရွက်ရန်" ဟု ပါရှိသော်လည်း ဆေးရွက်ကြီး စိုက်ပျိုး ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ ထည့်သွင်းပြဋ္ဌာန်းထားမှုမရှိပါကြောင်း။

(ခ) ကွန်ဗင်းရှင်း အပိုင်း (၅)၊ အခန်း (၁၈)တွင် ဆေးရွက်ကြီး စိုက်ပျိုးမှုနှင့် ဆေးလိပ် ထုတ်လုပ်မှုတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် စိုက်ပျိုး ထုတ်လုပ်သူများ ကျန်းမာရေးထိခိုက်ခြင်း အန္တရာယ်ကို ကာကွယ်ရန် အတွက်မြန်မာနိုင်ငံသည် ကွန်ဗင်းရှင်းအဖွဲ့ဝင် နိုင်ငံဖြစ်သည့် အလျောက် တာဝန်ရှိပါကြောင်း။

(ဂ) ဆေးရွက်ကြီးစိုက်ပျိုးခြင်းနှင့် ပတ်သက်၍ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်ကြောင်း၊ဖွံ့ဖြိုးဆဲနိုင်ငံများတွင် ဆေးရွက်ကြီးစိုက်ပျိုးရေး၊ ထုတ်လုပ်ရေးနှင့် သိုလှောင်ရေး တို့အတွက် သဘာဝသစ်တောများကို ခုတ်ထွင် ရှင်းလင်းကာ လောင်စာအဖြစ် အသုံးပြုကြသဖြင့် သစ်တောများပြုန်းတီးခြင်း၊ မြေဆီမြေသား ပျက်စီးခြင်းနှင့် စိုက်ပျိုးသည့် အလုပ်သမားများ ကျန်းမာရေးထိခိုက်နိုင်ကြောင်း။

(ဃ) ပြည်ထောင်စု အစိုးရအဖွဲ့ရုံးမှလည်း ဆေးရွက်ကြီး စိုက်ပျိုးသူများ အနေဖြင့် ပိုမို ဝင်ငွေကောင်းသော အခြားအစားထိုး သီးနှံများ စိုက်ပျိုးနိုင်စေရေးအတွက် သုတေသနလုပ်ငန်းများ ဆောင်ရွက်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနသို့ တိုက်တွန်းထားကြောင်း။

(င) Alliance One Myanmar Co., Ltd. အနေဖြင့် ရှမ်းပြည်နယ်၊ တောင်ကြီး မြို့နှင့် ဆီဆိုင်မြို့နယ်တို့တွင် ဆေးရွက်ကြီးစိုက်ပျိုးထုတ်လုပ်လိုသည့် ကိစ္စနှင့် ပတ်သက်၍ နိုင်ငံတကာတွင် ဆောင်ရွက်နေသည့် ကန့်သက်ချက်များ၊ အတွေ့ အကြုံများကို သတိပြု၍ လိုအပ်သလို ထိန်းချုပ်သင့်ကြောင်း။

**၃။ စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းကို ရှမ်းပြည်နယ် အစိုးရအဖွဲ့ရုံး၏ သဘောထား မှတ်ချက် ပူးတွဲ၍ ကော်မရှင်မှ တင်ပြလာခြင်းဖြစ်ပါသည်။

(ခ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်း ရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနများသို့ သဘောထားများ တောင်းခံခဲ့ရာ သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထား မှတ်ချက်များပြန်ကြား ထားပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၁၃သန်း ဖြင့် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၄၉/၂၀၁၄) အရ စီးကရက်ထုတ်လုပ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပြည်တွင်း ဆေးရွက်ကြီးများအား ပထမ (၃)နှစ် ၅၀% အသုံးပြုခြင်း (သို့မဟုတ်) ပြည်တွင်း ဆေးရွက်ကြီးများ ပြည်ပသို့ရောင်းချခြင်းမှ ရရှိသောဝင်ငွေဖြင့် ဝယ်ယူရရှိသော ကုန်ကြမ်းကို အနည်းဆုံး ၅၀% အသုံးပြုထုတ်လုပ်ရမည်။ ပြည်ပသို့ ၉၀% တင်ပို့ရမည်။ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တွင် ပြည်တွင်းကုန်ကြမ်း အသုံးပြု ရမည့် အစီအစဉ်ဇယားနှင့် ပြည်ပတင်ပို့မည့် အစီအစဉ်ဇယား ထည့်သွင်း တင်ပြ ရမည်။ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ရယူဆောင်ရွက်ရမည် ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၄။ သို့ပါ၍ Alliance One Myanmar Co., Ltd. မှ ဆေးရွက်ကြီးစိုက်ပျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် ကျန်းမာရေး ဝန်ကြီးဌာနမှ ပြန်ကြား လာသည့် သဘောထားမှတ်ချက် နှင့်စပ်လျဉ်းပြီး ဆက်လက် ဆောင်ရွက်နိုင်ပါရန် အတွက် လမ်းညွှန်မှု ပြုပါရန်။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ
ရုံးလက်ခံ

ကုမ္ပဏီအမည် - Alliance One Myanmar Co., Ltd.

လုပ်ငန်း - Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၄-၂-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စိမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန (ပထမအကြိမ်) | ၂၅-၂-၂၀၁၄ | ၅-၃-၂၀၁၄ | ၈ ရက် |
| | (ခ) စိမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန (ဒုတိယအကြိမ်) | ၉-၄-၂၀၁၄ | ၁၀-၄-၂၀၁၄ | ၁ ရက် |
| | (ဂ) စိမံကိန်းစိစစ်ရေးနှင့်တိုးတက်မှုအစီရင်ခံရေး ဦးစီးဌာန (တတိယအကြိမ်) | ၁၆-၆-၂၀၁၄ | | |
| | (ဃ) လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်း ဝန်ကြီးဌာန | ၂၅-၂-၂၀၁၄ | ၂၀-၃-၂၀၁၄ | ၂၃ ရက် |
| | (င) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၂၅-၂-၂၀၁၄ | ၁၃-၃-၂၀၁၄ | ၁၆ ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၁၀/၂၀၁၄) သို့ တင်ပြခြင်း | ၂၇-၂-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၂၇-၂-၂၀၁၄ | | |
| ၅ | PAT အစည်းအဝေးဆုံးဖြတ်ချက်ပြန်ကြားခြင်း | ၆-၃-၂၀၁၄ | | |
| ၆ | ကုမ္ပဏီမှ PAT အစည်းအဝေး ဆုံးဖြတ်ချက်နှင့်အညီ လိုအပ်ချက်များ တင်ပြလာခြင်း | ၁၇-၆-၂၀၁၄ | | ၁၁၀ ရက် |
| ၇ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်၍ အဆိုပြုလွှာ ၁၅ စုံ ပေးပို့ခြင်း | ၁၇-၆-၂၀၁၄ | | |
| | စုစုပေါင်း ကြာမြင့်ရက် | ၁၁၀ ရက် | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co.,Ltd. တည်ထောင်၍ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုး ထုတ်လုပ်ခြင်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Alliance One Myanmar Co.,Ltd.<br>Mr. Hans Henrik Baark |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု (စင်ကာပူ)<br>- Alliance One International Singapore Pte.,Ltd.(စင်ကာပူ) ၆၀%<br>- Representations International Pte., Ltd. (စင်ကာပူနိုင်ငံ) ၁၅%<br>- Agriculture Century Co.,Ltd. (မြန်မာ) ၂၅% |
| | လုပ်ငန်းအမျိုးအစား | - Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်း |
| ၂။ | တည်နေရာ | - ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ် |
| | မြေပိုင်ရှင် | - Contract Farming စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် တောင်သူ(၁၀)ဦးနှင့် ချုပ်ဆိုထားသော စာချုပ်များ တင်ပြထားပါသည်။ |
| | မြေအကျယ်အဝန်း | - ၁၂ ဧက |
| ၃။ | လုပ်ငန်းသက်တမ်း | - ၅၀နှစ် (Phase I ၁၀နှစ်) |
| | တည်ဆောက်ရေးကာလ | - ၆ နှစ် (နှစ်စဉ် ကုန်ကြမ်းအတွက် စိုက်ပျိုးမည် ဖြစ်ပါသည်။) |
| ၄။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ထည့်ဝင်သည့်အမျိုးအစား | - US $ ၁၃.၀၀ သန်း (ချေးငွေ US $ ၈ သန်း အပါအဝင်)<br>US $ (သန်း) |

| | Alliance One International Singapore Pte., Ltd.(စင်ကာပူ) | Representations International Pte., Ltd. (စင်ကာပူ) | Agriculture Century Co., Ltd. (မြန်မာ) | Joint Loan | Total |
|---|---|---|---|---|---|
| ငွေသား | ၁.၄၀၀ | ၀.၃၅၀ | ၃.၂၅၀ | ၇.၃၀၀ | ၁၂.၃၀၀ |
| စက်ပစ္စည်း (ပြည်တွင်းဝယ်) | | | | ၀.၃၄၄ | ၀.၃၄၄ |
| စက်ပစ္စည်း (ပြည်ပဝယ်) | | | | ၀.၃၅၆ | ၀.၃၅၆ |
| စုစုပေါင်း | ၁.၄၀၀ | ၀.၃၅၀ | ၃.၂၅၀ | ၈.၀၀၀ | ၁၃.၀၀၀ |

| | | |
|---|---|---|
| ၅။ | ဝန်ထမ်းအင်အား | - ၉၀၅ ဦး |
| | ပြည်တွင်း | - ၈၉၈ ဦး (အနိမ့်ဆုံးလစာမှာ US$ ၆၀ အမြင့်ဆုံးလစာမှာ US$ ၁၅၀၀) |
| | ပြည်ပ | - ၇ ဦး (အနိမ့်ဆုံးလစာမှာ US$ ၂၀၀၀ အမြင့်ဆုံးလစာမှာ US$ ၇၀၀၀) |

| | | |
|---|---|---|
| ၆။ | ရောင်းချမည့်စနစ် | - ပထမနှစ်နှင့် ဒုတိယနှစ်တွင် ပြည်တွင်း ၇% နှင့် ပြည်ပ ၉၃%<br>- တတိယနှစ်မှ စတင်၍ ပြည်တွင်း ၁၅% နှင့် ပြည်ပ ၈၅% |
| | | US$ သန်း |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | ၃.၆၂၆ |
| | ကုမ္ပဏီ၏ အသုံးစရိတ် (၆ နှစ်မြောက်) | ၁.၉၉၅ |
| | ကုမ္ပဏီ၏အသားတင်အမြတ် | ၁.၆၃၁ |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၅၄၄ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၂.၇၀၀ သန်း |
| | အရင်းကြေကာလ | - ၁၀ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၅ % |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ဆဋ္ဌမနှစ်) | - ၂၀၁၅၀၀၀ KWH |
| ၁၀။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းလိုသည့် စက်နှင့် စက်ပစ္စည်းကိရိယာများ | - US$ ၀.၂၉၄ သန်းတန်ဖိုးရှိ စာရင်းကို ပူးတွဲ(၁)ဖြင့် တင်ပြထားပါသည်။ |
| ၁၁။ | CSR (Corporate Social Responsibility) | - နှစ်စဉ်အသားတင်အမြတ်၏ ၂ % ကို သုံးစွဲရန် လျာထားကြောင်း တင်ပြထားပါသည်။ |
| ၆။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက်စည်းကမ်းချက်များကို ချမှတ်ထားရှိပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားကြောင်းနှင့် ဝန်ထမ်းများမှ လိုက်နာဆောင်ရွက်ခြင်း ရှိ/မရှိအား ကြီးကြပ်နိုင်ရန်အတွက် ကြီးကြပ်ရေးမှူး တစ်ဦး ခန့်ထားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအတွက် အရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့် သင်ကြားပေးမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |

ပူးတွဲ (၁)

Machines and equipment breakdown

| Import | | | | | |
|---|---|---|---|---|---|
| No | Description | Size | Unit Price | Qty | Cost |
| 1 | Servers | | $ 5,000 | 3 | $ 15,000 |
| 2 | Central Air Conditioning | | $ 20,000 | 0 | $ - |
| 3 | PC's w/software & network cards | | $ 1,000 | 0 | $ - |
| 4 | Laptops w/software & net cards | | $ 1,500 | 5 | $ 7,500 |
| 5 | Printers w/network card | | $ 500 | 0 | $ - |
| 6 | Satellite Phone | | $ 3,800 | 3 | $ 11,400 |
| 7 | Field Radios | | $ 3,000 | 20 | $ 60,000 |
| | **Total** | | **$ 34,800** | | **$ 93,900** |

**Machines and equipment breakdown**

| 1) Import | | | | | |
|---|---|---|---|---|---|
| No | Description | Size | Unit Price | Qty | Cost |
| 1 | Forklifts Diesel, Clamp | 3,000 Kg | $ 50,000 | 2 | $ 100,000 |
| 2 | Forklifts Diesel, Fork | 3,000Kg | $ 50,000 | 2 | $ 100,000 |
| | Total | | $ 100,000 | | $ 200,000 |

Machines and equipment breakdown

Import

| No | Description | Size | Unit Price | Qty | Cost |
|---|---|---|---|---|---|
| | Green receiving lines | | | | |
| 1 | Truck offloading conveyor | 0.8 x 8.5m | $ 8,000 | - | $ - |
| 2 | Buying, Re-class conveyor | 0.8 x 18m | $ 8,500 | - | $ - |
| 3 | Scale conveyor | 0.8m | $ 2,500 | - | $ - |
| 4 | Sewing conveyor | 0.8 x 10m | $ 5,500 | - | $ - |
| 5 | Pallet loading conveyor | 0.8 x 18m | $ 8,500 | - | $ - |
| | | Storage Pallet | $ 33,000 | | $ - |

ကုမ္ပဏီအမည် - Alliance One Myanmar Co., Ltd.

အဖွဲ့အစည်းပုံသဏ္ဍာန် - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု

လုပ်ငန်းအမျိုးအစား - Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်း လုပ်ငန်း

တည်နေရာ - ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့၊ ဆီဆိုင်မြို့နယ်

စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၁၃ သန်း

ရောင်းချမည့်စနစ် - ပထမနှစ်နှင့် ဒုတိယနှစ်တွင် ပြည်တွင်း ၇% နှင့် ပြည်ပ ၉၃%
တတိယနှစ်မှ စတင်၍ ပြည်တွင်း ၁၅% နှင့် ပြည်ပ ၈၅%

လုပ်ငန်းသက်တမ်း - ၅၀နှစ်(Phase I နှင့် Phase II ခွဲ၍ ဆောင်ရွက်မည် ဖြစ်ပြီး ယခုတင်ပြချက်သည် Phase I အတွက် ၁၀ နှစ် ဖြစ်ပါသည်။)

အရင်းကြေကာလ - ၁၀ နှစ် } Phase I နှင့် Phase II အတွက်

IRR - ၅ % တွက်ချက်ထားခြင်းဖြစ်ပါသည်။

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်- ( Phase I အတွက်သာ ဖြစ်ပါသည်။)

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၄၈၀ သန်း | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၀.၃၅၉ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၈၉၉.၅ သန်း | ကျပ် ၁၃၂၆ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၀၈၄၃ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်းနှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၄၀၀) ဦး |
| ၇ | CSR (၂ %) | | ကျပ် ၁၅၁.၅ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၈၉၈ ဦး |
| | | | ပြည်ပ ၇ ဦး |
| | | | ပြည်တွင်းလုပ်သား (၈၉၈) ဦး အလုပ် အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူ ပြုစေပါ သည်။ |
| | | | အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုရရှိ စေပြီး ဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူ ပြုစေနိုင်ပါသည်။ |
| | | ကျပ် ၉၁၃.၃၃၉ သန်း | ကျပ် ၁၂၃၂၁.၆၆၅ သန်း |
| | | ၁:၁၃ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၁/န- ၈၅၉/၂၀၁၄ (၆၂၄၇)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co.,Ltd. တည်ထောင်၍ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Agriculture Century Co.,Ltd. မှ ၂၅ % ၊ စင်ကာပူနိုင်ငံ Alliance One International Singapore Pte., Ltd. မှ ၆၀ % နှင့် Representations International Pte., Ltd. မှ ၁၅% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co., Ltd. တည်ထောင် ၍ Phase I တွင် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ်၌ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီးစိုက်ပျိုးထုတ်လုပ်ခြင်း ဆောင်ရွက်ခွင့် အဆိုပြုချက်အား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါ သည်။

၂။ အဆိုပြုချက်နှင့်အတူ Contract Farming စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် တောင်သူများ နှင့် ချုပ်ဆိုထားသောစာချုပ်များ၊ Agriculture Century Co., Ltd. (မြန်မာကုမ္ပဏီ) နှင့် Alliance One International Singapore Pte., Ltd. (စင်ကာပူကုမ္ပဏီ) ၊ Representations International Pte., Ltd. (စင်ကာပူ ကုမ္ပဏီ) တို့ကြား ချုပ်ဆိုမည့် Shareholder Agreement (မူကြမ်း)၊ Shareholder Loan Agreement (မူကြမ်း)၊ Alliance One Myanmar Co.,Ltd. ၏ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့မှတ်တမ်း (မူကြမ်း) များကို တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာစုစုပေါင်းမှာ ၁၂ ဧက ဖြစ်ပြီး တည်နေရာမှာ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ်တို့တွင်ဖြစ်ပါသည်။ Contract Farming စနစ်ဖြင့် ဆောင်ရွက်ခြင်းအတွက် တောင်သူ(၁၀) ဦးနှင့် ချုပ်ဆိုထားသော စာချုပ်များ တင်ပြထားပါသည်။ တောင်သူများမှာ ကုမ္ပဏီမှ သွင်းအားစုတန်ဖိုးများနှင့် စိုက်ပျိုးရေးသုံး ပစ္စည်းများအတွက် ကုန်ကျငွေနှင့် ဆေးရွက်ကြီး ထုတ်လုပ်ရန် ဆေးပေါင်းဖိုအဆောက်အဦ တည်ဆောက်ရာတွင် လိုအပ်သည့် ကုန်ကျငွေများကို ခံစားရမည် ဖြစ်ပါသည်။

၄။ လုပ်ငန်းစုစုပေါင်းသက်တမ်းမှာ ၅၀နှစ် ဖြစ်ပြီး Phase I နှင့် Phase II ခွဲခြား၍ ဆောင်ရွက်မည် ဖြစ်ပါသည်။ ယခုတင်ပြသည့်လုပ်ငန်းသည် Phase I အတွက် ဖြစ်ပြီး စီမံကိန်း ကာလမှာ ၁၀ နှစ်

ဖြစ်ပါသည်။ စိုက်ပျိုးထုတ်လုပ်ခြင်း ကာလမှာ (၆) နှစ် ဖြစ်ပြီး လိုအပ်သည့်ကုန်ကြမ်း စဉ်ဆက်မပြတ် ရရှိရန်အတွက် နှစ်စဉ်စိုက်ပျိုးမည် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ US$ ၁၃ သန်း ဖြစ်ပြီး ၎င်းတွင် ချေးငွေ US $ ၈သန်း ပါဝင်ပါသည်။ ချေးငွေမှာ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု၏ ၆၂% ဖြစ်ပါသည်။ စင်ကာပူနိုင်ငံရှိ မိခင် ကုမ္ပဏီမှ ချေးယူမည်ဖြစ်သောကြောင့် အတိုးနှုန်းမရှိပါကြောင်းနှင့် ချေးငွေကို ၂၀နှစ်အတွင်း ပြန်လည် ပေးဆပ်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ရင်းနှီးမြှုပ်နှံမှု US$ ၁၃ သန်းတွင် ပြည်ပမှ US$ ၉.၇၅ သန်း နှင့် ပြည်တွင်းမှ US$ ၃.၂၅ သန်း ပါဝင်ပါသည်။ ပြည်ပ၏ ထည့်ဝင်မှု US$ ၉.၇၅ သန်းတွင် ငွေသား US$ ၉.ဝ၆ဝ သန်းနှင့် စက်ပစ္စည်း US$ ဝ.၆၈၉ သန်း ပါဝင်ပါသည်။ ပြည်တွင်းမှ US$ ငွေသား ၃.၂၅ သန်း စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

US$ (သန်း)

| အကြောင်းအရာ | Alliance One International Singapore Pte., Ltd. (စင်ကာပူ) | Representations International Pte., Ltd. (စင်ကာပူ) | Agriculture Century Co., Ltd. (မြန်မာ) | ဖက်စပ် ချေးငွေ | စုစုပေါင်း |
|---|---|---|---|---|---|
| ငွေသား | ၁.၄၀၀ | ၀.၃၅၀ | ၃.၂၅၀ | ၇.၃၃၁ | ၁၂.၃၃၁ |
| စက်ပစ္စည်း (ပြည်တွင်းဝယ်) | | | | ၀.၃၄၄ | ၀.၃၄၄ |
| စက်ပစ္စည်း (ပြည်ပဝယ်) | | | | ၀.၃၄၅ | ၀.၃၄၅ |
| စုစုပေါင်း | ၁.၄၀၀ | ၀.၃၅၀ | ၃.၂၅၀ | ၈.၀၀၀ | ၁၃.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပထမနှစ်တွင် ပြည်တွင်း ဝန်ထမ်း ၆၄ ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း ၄ ဦး စုစုပေါင်း ၆၈ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ၁၀ နှစ်မြောက်တွင် ပြည်တွင်း ဝန်ထမ်း ၈၉၈ ဦး နှင့် ပြည်ပမှ ကျွမ်းကျင် ဝန်ထမ်း ၇ ဦး စုစုပေါင်း ၉၀၅ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ US$ ၆၀ အမြင့်ဆုံးလစာမှာ US$ ၁၅၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း၏ အနိမ့်ဆုံးလစာမှာ US$ ၂၀၀၀ အမြင့်ဆုံး လစာမှာ US$ ၇၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းသည် Contract Farming စနစ်ဖြင့် ဆောင်ရွက်ကြီး စိုက်ပျိုးထုတ်လုပ်သည့် လုပ်ငန်း ဖြစ်ပြီး ပထမနှစ်နှင့် ဒုတိယနှစ်တွင် ပြည်တွင်း ၇% နှင့် ပြည်ပ ၉၃% ၊ တတိယနှစ်မှ စတင်၍ ပြည်တွင်း ၁၅% နှင့် ပြည်ပ ၈၅% ရောင်းချမည် ဖြစ်ပါသည်။ ကုမ္ပဏီ၏နှစ်စဉ် Flue Cured Virginia (FCV) နှင့် Burley (BLY) ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်း (ဆဋ္ဌမနှစ်) မှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| | | ထုတ်လုပ်မှု (Ton) | ရောင်းဈေးနှုန်း (US$/ Ton) | |
|---|---|---|---|---|
| | | | ပြည်တွင်း | ပြည်ပ |
| FCV | Lamina | ၇၉၉၇ | ၃,၄၅၀ | ၃,၄၅၀ |
| BLY | Lamina | ၇၂၂၈ | ၃,၄၅၀ | ၃,၄၅၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမနှစ်)တွင် Crop development အတွက် ကုမ္ပဏီမှရရှိမည့် အကျိုး အမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ သန်း |
|---|---|---|
| (က) | ဝင်ငွေ | ၃.၆၂၆ |
| (ခ) | အသုံးစရိတ် | ၁.၉၉၅ |
| (ဂ) | အသားတင်အမြတ် | ၁.၆၃၁ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၅၄၄ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၂.၇၀၀ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၀ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၅ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁ ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁၀၀၀ နှုန်း ဖြင့် တွက်ချက်ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့မှ** ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ လျော့နည်းစေရန် လုပ်ငန်းအဆင့်ဆင့်အတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် စက်ပစ္စည်းများနှင့် နည်းလမ်းအစီအမံများ၊ ဂေဟစနစ်ထိခိုက်မှုအား လျော့နည်းသက်သာစေမည့် နည်းလမ်းများ ထည့်သွင်း ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ စီမံကိန်း စတင်တည်ထောင်သည့် အချိန်မှစ၍ ပြီးစီးသည့်အချိန်အထိ ပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်သည့် ဆောင်ရွက်ထားရှိမှုများ၊ လုပ်ငန်းခွင် လုံခြုံမှုရှိစေရေးအတွက် စီမံချက်၊ ကျန်းမာရေး စောင့်ရှောက်မှု အစီအစဉ်များ၊ လုပ်ငန်းခွင်အတွင်း စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုဆိုင်ရာ စီမံထားရှိမှုများ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ်

(Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ ပြဋ္ဌာန်းထားသော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်း စည်းကမ်းများနှင့် ညွှန်ကြားချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်ဖြစ်ကြောင်း၊ သက်ဆိုင်ရာ တိုင်းဒေသကြီး/ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရမည်ဖြစ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ EMP အား Good Agricultural Practices ဖြင့် ဆောင်ရွက်မည်ဖြစ်ကြောင်း (မူကြမ်း)အား တင်ပြထား၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ပို့ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ-ခ**

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ ကန့်ကွက်ရန် မရှိပါကြောင်း နှင့်** စိုက်ပျိုးထုတ်လုပ်မည့် မြေနေရာအတိအကျဖော်ပြရန် သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ **မြေနေရာများအားလယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနသို့ ပို့ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ-ဂ**

၁၁။ ငွေကြေးအထောက်အထားအဖြစ် Representations International Pte., Ltd. သည် စင်ကာပူနိုင်ငံရှိ United Overseas Bank တွင် ၃၁-၇-၂၀၁၃ ရက်စွဲဖြင့် US$ ၁.၀၇၃ သန်း ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးသောကြိုတင် ကာကွယ်ရေးအတွက် စည်းကမ်းချက်များကို ချမှတ်ထားရှိပြီး ၎င်းစည်းကမ်းချက်များကို ဝန်ထမ်းများအား တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားကြောင်းနှင့် ဝန်ထမ်းများမှ လိုက်နာဆောင်ရွက်ခြင်း ရှိ/မရှိအား ကြီးကြပ်နိုင်ရန်အတွက် ကြီးကြပ်ရေးမှူးတစ်ဦးခန့် ထားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများကိုလည်း မီးသောအတွက် အရေးပေါ်ကာကွယ်နိုင်ရန် မီးသတ် နည်းပညာများ လေ့ကျင့်သင်ကြားပေးမည်ဖြစ်ကြောင်း တင်ပြထား ပါသည်။

၁၃။ ဆေးရွက်ကြီးထုတ်လုပ်မှုအဆင့်ဆင့်၊ အလုပ်သမားများအတွက် ဝင်ငွေခွန် ထမ်းဆောင်မည့် အစီအစဉ်၊ Fertilizers များအား အန္တရာယ် ကင်းရှင်းရေးအတွက် ထားရှိမည့်အစီအစဉ်၊ ရရှိလာမည့် အမြတ်ငွေမှ ၂% ကို Cooperate Social Responsibility (CSR) အတွက် ထည့်ဝင်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ဆောင်ရွက်ခြင်းဖြစ်ပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၁/၂၀၁၃ ဖြင့် ထုတ်ပြန်ထားသည့် သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများ စာရင်းတွင် မပါဝင်သောလုပ်ငန်းဖြစ်ပါသည်။

၁၆။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၅-၂-၂၀၁၄ နေ့တွင် ကျင်းပပြုလုပ်သော (၁၀/၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ စိစစ်တင်ပြချက်

(က) Agriculture Century Co., Ltd. (မြန်မာကုမ္ပဏီ) နှင့် Alliance One International Singapore Pte., Ltd. (စင်ကာပူကုမ္ပဏီ) တို့၏ သင်းဖွဲ့စည်းမျဉ်း၊ သင်းဖွဲ့ မှတ်တမ်း (မူကြမ်း) တို့အား တင်ပြထားပါသည်။

(ခ) Alliance One International Singapore Pte., Ltd. ၏ ၂၀၁၁-၂၀၁၂ Financial Statement အား တင်ပြထားပါသည်။ စင်ကာပူနိုင်ငံသံရုံး၏ ထောက်ခံချက် ကိုလည်း တင်ပြထားပါသည်။

(ဂ) Evaluation of Environmental Impact နှင့် Evaluation on Socio-economic assessments တို့ကိုတင်ပြထားပါသည်။

(ဃ) စက်ပစ္စည်းတင်သွင်းရာတွင် ဖြစ်ပေါ်လာနိုင်သောအရေးပေါ်ကိစ္စများအတွက် စုစုပေါင်း တန်ဖိုး၏ ၁၀% နှင့် Spare Parts & Stores အတွက် US$ ၂၀,၀၀၀ ထည့်သွင်းတင်ပြ ထားပါသည်။

(င) External Loan US$ ၂၂.၇၆၇ သန်းအား Working Capital အဖြစ် လိုအပ်လျှင် အတိုးနှုန်း ၁၃% ဖြင့် ဘဏ်မှ ကာလတိုချေးယူမည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ မြန်မာနိုင်ငံ Agriculture Century Co.,Ltd. မှ ၂၅ % ၊ စင်ကာပူ နိုင်ငံ Alliance One International Singapore Pte., Ltd. မှ ၆၀ % နှင့် Representations International Pte., Ltd. မှ ၁၅% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co.,Ltd. တည်ထောင်၍ Phase I တွင် ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့၊ ဆီဆိုင်မြို့နယ်၌ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီးစိုက်ပျိုး ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် စပ်လျဉ်း၍-

(က) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

ကန့်သတ်

၆

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Alliance One International Singapore Pte. Ltd. | (၁) Mr. Hans Henrik Baark.<br>Managing Director<br>German<br>P.P No. C4KH6R6CM0D | 11 Sunset Drive Singapore 597471 |
| | | (၂) Mr. Someswara Rao Musti<br>Director<br>Indian<br>P.P No. Z 2741245 | Plot No. 21/1 Cross Road No.2, road No.1 Surya Enclave, Tirumalgherry Secunderabad 500015. |
| | | (၃) Mr. Ulrich Ahrendt<br>Managing Director<br>German<br>P.P No. C4KHFJF12 | 6C Orange Grove Road 258333 Singapore. |
| ၂။ | Representations International Pte., Ltd. | (၄) Mr. Chew Leong Chee<br>Director<br>Singaporean<br>P.P No. E 3342979E | 6B Cluny Park, Cluny Park, Singapore 259615. |
| ၃။ | Agriculture Century Co.,Ltd. | (၅) U Aung Moe Kyaw<br>Director<br>Myanmar<br>12/ Ma Ya Ka (Naing) 106397 | No. 18, Aung Mingalar Street, Aung Theikdi Road, (3)Ward, Mayangone Township Yangon. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉- ၇၃၀၄၄၇၃၇

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်နေနွယ်လင်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက- ၃/န-၉၇၁ /၂၀၁၄( ၁၄၂ )
ရက်စွဲ၊ ၂၀၁၄ခုနှစ် ဩဂုတ်လ ၂၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co., Ltd. မှ ဆေးရွက်ကြီးစိုက်ပျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မြန်မာနိုင်ငံ Agriculture Century Co., Ltd. မှ ၂၅% ၊ စင်ကာပူနိုင်ငံမှ Alliance One International Singapore Pte. Ltd. မှ ၆၀% နှင့် Representations International Pte., Ltd. မှ ၂၀% ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Alliance One Myanmar Co., Ltd. တည်ထောင်၍ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ် ၌ Contract Farming စနစ်ဖြင့် ဆေးရွက်ကြီး စိုက်ပျိုးထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် ကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ၂၀၁၄ ခုနှစ် ဇွန်လ ၂၀ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၇/၂၀၁၄) အစည်းအဝေးသို့ တင်ပြခဲ့ ရာ အစည်းအဝေးမှ အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းသည် ဆေးဝါးနှင့် ဆေးရွက်ကြီး ဥပဒေနှင့် ညီညွတ်ခြင်း ရှိ-မရှိ ကျန်းမာရေးဝန်ကြီးဌာနသို့ သဘောထား တောင်းခံရန် ဆုံးဖြတ်ခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ကျန်းမာရေး ဝန်ကြီးဌာနသို့ သဘောထား တောင်းခံခဲ့ရာ ကျန်းမာရေးဝန်ကြီးဌာနမှ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်-

(က) ဆေးလိပ်နှင့် ဆေးရွက်ကြီး ထွက်ပစ္စည်း သောက်သုံးမှု ထိန်းချုပ်ရေးဥပဒေ အခန်း(၂)၊ ပုဒ်မ ၃၊ ပုဒ်မခွဲ (င)ပါ ဥပဒေ၏ ရည်ရွယ်ချက်တွင် "ဆေးလိပ် နှင့် ဆေးရွက်ကြီး ထွက်ပစ္စည်းသောက်သုံးမှု ထိန်းချုပ်ရေးအတွက် မြန်မာနိုင်ငံ ကလက်ခံထားသည့် အပြည်ပြည်ဆိုင်ရာ ကွန်ဗင်းရှင်းနှင့် အညီ အကောင် အထည်ဖော် ဆောင်ရွက်ရန်" ဟု ပါရှိသော်လည်း ဆေးရွက်ကြီး စိုက်ပျိုး ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် ပတ်သက်၍ ထည့်သွင်းပြဋ္ဌာန်းထားမှုမရှိပါကြောင်း။

(ခ) ကွန်ဗင်းရှင်း အပိုင်း (၅)၊ အခန်း (၁၈)တွင် ဆေးရွက်ကြီး စိုက်ပျိုးမှုနှင့် ဆေးလိပ် ထုတ်လုပ်မှုတို့ကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်းနှင့် စိုက်ပျိုး ထုတ်လုပ်သူများ ကျန်းမာရေးထိခိုက်ခြင်း အန္တရာယ်ကို ကာကွယ်ရန် အတွက်မြန်မာနိုင်ငံသည် ကွန်ဗင်းရှင်းအဖွဲ့ဝင် နိုင်ငံဖြစ်သည့် အလျောက် တာဝန်ရှိပါကြောင်း။

(ဂ) ဆေးရွက်ကြီးစိုက်ပျိုးခြင်းနှင့် ပတ်သက်၍ သဘာဝပတ်ဝန်းကျင်ကို ထိခိုက်ကြောင်းဖွံ့ဖြိုးဆဲနိုင်ငံများတွင် ဆေးရွက်ကြီးစိုက်ပျိုးရေး၊ ထုတ်လုပ်ရေးနှင့် သိုလှောင်ရေး တို့အတွက် သဘာဝသစ်တောများကို ခုတ်ထွင် ရှင်းလင်းကာ လောင်စာအဖြစ် အသုံးပြုကြသဖြင့် သစ်တောများပြုန်းတီးခြင်း၊ မြေဆီမြေသား ပျက်စီးခြင်းနှင့် စိုက်ပျိုးသည့် အလုပ်သမားများ ကျန်းမာရေးထိခိုက်နိုင်ကြောင်း။

(ဃ) ပြည်ထောင်စု အစိုးရအဖွဲ့ရုံးမှလည်း ဆေးရွက်ကြီး စိုက်ပျိုးသူများ အနေဖြင့် ပိုမို ဝင်ငွေကောင်းသော အခြားအစားထိုး သီးနှံများ စိုက်ပျိုးနိုင်စေရေးအတွက် သုတေသနလုပ်ငန်းများ ဆောင်ရွက်ရန် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနသို့ တိုက်တွန်းထားကြောင်း။

(င) Alliance One Myanmar Co., Ltd. အနေဖြင့် ရှမ်းပြည်နယ်၊ တောင်ကြီးမြို့နှင့် ဆီဆိုင်မြို့နယ်တို့တွင် ဆေးရွက်ကြီးစိုက်ပျိုးထုတ်လုပ်လိုသည့် ကိစ္စနှင့် ပတ်သက်၍ နိုင်ငံတကာတွင် ဆောင်ရွက်နေသည့် ကန့်သက်ချက်များ၊ အတွေ့အကြုံများကို သတိပြု၍ လိုအပ်သလို ထိန်းချုပ်သင့်ကြောင်း။

**၃။ စိစစ်တင်ပြချက်**

(က) အဆိုပြုလုပ်ငန်းကို ရှမ်းပြည်နယ် အစိုးရအဖွဲ့ရုံး၏ သဘောထား မှတ်ချက် ပူးတွဲ၍ ကုမ္ပဏီမှ တင်ပြလာခြင်းဖြစ်ပါသည်။

(ခ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနများသို့ သဘောထားများ တောင်းခံခဲ့ရာ သတ်မှတ်ထားသည့် စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်ပါက ကန့်ကွက်ရန် မရှိကြောင်း သဘောထား မှတ်ချက်များပြန်ကြားထားပြီးဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ ၁၃သန်းဖြင့် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးမြို့နယ်နှင့် ဆီဆိုင်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ် (၄၉/၂၀၁၄) အရ စီးကရက်ထုတ်လုပ်ခြင်း လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပြည်တွင်းဆေးရွက်ကြီးများအား ပထမ (၃)နှစ် ၅၀% အသုံးပြုခြင်း (သို့မဟုတ်) ပြည်တွင်းဆေးရွက်ကြီးများ ပြည်ပသို့ရောင်းချခြင်းမှ ရရှိသောဝင်ငွေဖြင့် ဝယ်ယူရရှိသော ကုန်ကြမ်းကို အနည်းဆုံး ၅၀% အသုံးပြုထုတ်လုပ်ရမည်။ ပြည်ပသို့ ၉၀% တင်ပို့ရမည်။ ရင်းနှီးမြှုပ်နှံမှု အဆိုပြုချက်တွင် ပြည်တွင်းကုန်ကြမ်း အသုံးပြုရမည့် အစီအစဉ်ဇယားနှင့် ပြည်ပတင်ပို့မည့် အစီအစဉ်ဇယား ထည့်သွင်း တင်ပြရမည်။ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက် ရယူဆောင်ရွက်ရမည် ဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၄။ သို့ပါ၍ Alliance One Myanmar Co., Ltd. မှ ဆေးရွက်ကြီးစိုက်ပျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းအပေါ် ကျန်းမာရေး ဝန်ကြီးဌာနမှ ပြန်ကြား လာသည့် သဘောထားမှတ်ချက် နှင့်စပ်လျဉ်းပြီး ဆက်လက် ဆောင်ရွက်နိုင်ပါရန် အတွက် လမ်းညွှန်မှု ပြုပါရန်။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ